(ဂ)စက်ရုံတွင် တပ်ဆင်မည့် ငါးအမှုန့်ကြိတ်စက်မှာ တစ်နေ့လျှင် တန်(၅၀)ကျထုတ်လုပ်နိုင်သည့် စက်အမျိုးအစားဖြစ်ပါသည်။ ပင်လယ်ကေရီထုတ်လုပ်မှုကုမ္ပဏီလီမိတက် " Marine Acary Production Co., Ltd " အနေဖြင့် ကုန်ကြမ်းရရှိမှုအခြေအနေအရ တနေ့လျှင် တန်(၅၀) အပြည့်ထုတ်လုပ်ရန် လောလောဆယ်မဖြစ်နိုင်ပါ၊ အဆိုပါစက်များကို ကိုင်တွယ်မောင်းနှင်ရန်အတွက် အင်ဂျင်နီယာ(၅)ဦး၊အော်ပရေတာ(၁၀)ဦး ခန့်အပ်ထားရှိမည်ဖြစ်ပြီး ကုန်ကြမ်းကုန်ချောသစ္စည်းများ ထမ်းပိုးဆောင်ရွက်ရန်အတွက် အလုပ်ကြမ်းသမား(၅၀)ဦး၊ ခန့်အပ်ထားရှိမည် ဖြစ်သောကြောင့်ကုန်ချော ထုတ်လုပ်မှုနှင့်စက်အင်အား၊ လူအင်အားအမျိုးအစား လုံလောက်ညီညွတ်မှုရှိကြောင်း စိစစ်တင်ပြအပ်ပါသည်။

၆။ ငါးအမှုန့်ကြိတ်လုပ်ငန်းနှင့် ပတ်သက်၍ အချို့စက်ရုံများတွင် ငါးကြီး၊ ငါးကောင်းများကိုဝယ်ယူပြီးပထမအဆင့်အနေဖြင့်ငါးအသားလွှာခြင်း(Surimi)ကို ဆောင်ရွက်ပါသည်။ထိုမှထွက်လာသောငါးအရိုးနှင့် ခေါင်းများကို ငါးအမှုန့်ကြိတ်သည့် စနစ်ဖြင့် အမှုန့်ကြိတ်၍ ( Fish Meal ) ပြုလုပ်၍ ကြက်စာ၊ဘဲစာများအဖြစ် အသုံးပြုပါသည်။

၇။ ယခု ပင်လယ်ကေရီထုတ်လုပ်မှုကုမ္ပဏီလီမိတက်" Marine Acary Production Co., Ltd "မှ ဆောင်ရွက်မည့်စနစ်မှာ ငါးသေး၊ ငါးမှုန့်၊ ပါကင်ငါးများကို ဝယ်ယူပြီး အမှုန့်ကြိတ်သည့်စနစ်ဖြင့် ငါးအမှုန့်ကြိတ် ကုန်ချောထုတ်လုပ်မည်ဖြစ်ပါသည်။ ထို့ကြောင့် အသား/အရိုး နှစ်မျိုးစလုံးပါဝင်သော ငါးအမှုန့်ဖြစ်၍ ပရိုတင်းဓါတ်ပါဝင်မှုမှာ မြင့်မားသဖြင့်အရည်အသွေးကောင်းမွန်သောငါးအမှုန့်ကြိတ် စနစ်ဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

၈။ ထို့အပြင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ရေဆိုးများကိုသန့်စင်သောစနစ်၊အနံ့ဆိုးများ သန့်စင်သောစနစ်၊ မီးဘေးကြိုတင်ကာကွယ်မှုများ၊ ဆောင်ရွက်ထားရှိမှုကို စိစစ်တွေ့ရှိရပါသည်။ လက်ရှိ စစ်ဆေးချိန်တွင် ( Fish Meal Plant ) တည်ဆောက်မှုမှာ (၂၅%)ပြီးစီးနေကြောင်းနှင့် ( Ice Making Plant ) တည်ဆောက်မှုမှာ စက်ပစ္စည်းများရောက်ရှိနေပြီး (၇၀%)ပြီးစီးနေကြောင်း စစ်ဆေးတွေ့ရှိခဲ့ရပါသည်။ ဆောက်လုပ်ရေးလုပ်ငန်းများ ဆက်လက်ဆောင်ရွက်လျှက်ရှိပြီး (၆)လခန့်ကြာလျှင် (၁၀၀%)ပြီးစီးမည်ဖြစ်ကြောင်း ညှိနှိုင်းသိရှိရပါသည်။

၉။ သို့ဖြစ်ပါ၍ ပင်လယ်ကေရီထုတ်လုပ်မှုကုမ္ပဏီလီမိတက် Marine Acary Production Co., Ltd သည် ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကခဲ့ကနိကျေးရွာအုပ်စုတွင် ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံ ( Fish Meal Plant ) နှင့် ရေခဲစက်ရုံ ( Ice Making Plant ) တည်ဆောက်ခြင်းအတွက် ဧရာဝတီတိုင်းအတွင်းရှိ ဒေသခံလုပ်သားများအတွက် အလုပ်အကိုင်အသစ်များ ရရှိမည်

ဖြစ်ခြင်း၊ ရေလုပ်ငန်းဆိုင်ရာ ဖွံ့ဖြိုးတိုးတက်မှု ဖြစ်စေခြင်းအပြင်၊ ဒေသဆိုင်ရာ ဖွံ့ဖြိုးတိုးတက်မှု ဖြစ်ပေါ်လာပြီး အလုပ်အကိုင်အခွင့်အလမ်းများရရှိလာမည် ဖြစ်ပါသဖြင့် ပင်လယ်ကေရီထုတ်လုပ်မှု ကုမ္ပဏီလီမိတက် " Marine Acary Production Co., Ltd " မှ ငါးအမှုန့်ကြိတ်စက်ရုံနှင့် ရေခဲစက်ရုံ တည်ဆောက်ခြင်းကို ကန့်ကွက်ရန်မရှိပါကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( ဝင်းသိန်းဦး ၊ ညွှန်ကြားရေးမှူး )

<u>ဝန်ကြီးရုံး</u>
<u>မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန</u>
မိတ္တူ- ။
- ရုံးလက်ခံ
- မျှော

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

Fax -95-67-406333

ဖုံး-၀၆၇-၄၀၆၁၃၉၊၄၀၆၁၀၆

စာအမှတ်၊ ရက-၆(က) / မ-၁၀၅၇/၂၀၀၉(၂၂၀၅၃)
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ၂၃ ရက်၊

သို့
ဝန်ကြီး၊
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

အကြောင်းအရာ။ ။ ပင်လယ်ဧကရီ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Marine Acary Production Co., Ltd.)မှ ငါးအမှုန့်ကြိတ် စက်ရုံ နှင့် ရေခဲစက်ရုံ တည်ဆောက်ပြီး ငါးအမှုန့်နှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ။ ပင်လယ်ဧကရီ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Marine Acary Production Co., Ltd.)၏ (၁၇-၁၂-၂၀၀၉) ရက်စွဲပါ တင်ပြစာ။

၁။ ပင်လယ်ဧကရီ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Marine Acary Production Co., Ltd.)မှ ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေး မြို့နယ်၊ ကဒုံကနိကျေးရွာအုပ်စု၊ ရေကျော်ကွင်းအမှတ် (၉၁၇)၊ ဦးပိုင်အမှတ် (၂/၈)ရှိ လန(၃၉)မြေ (၃၂.၃၂)ဧကတွင် ငါးအမှုန့်ကြိတ် စက်ရုံ နှင့် ရေခဲစက်ရုံ တည်ဆောက်၍ သန့်စင်ပြီး ငါးအမှုန့်နှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြခြင်းကို လက်ခံ ရရှိခဲ့ပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၃) ၊ အပိုဒ် (၁၁) ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသဖြင့် အဆိုပြုချက်ပါ လုပ်ငန်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၃။ အဆိုပါ သဘောထားမှတ်ချက် ပြန်ကြားရာတွင် ပူးတွဲပါ အဆိုပြုချက်နှင့် စပ်လျဉ်း၍ အောက်ပါအချက်များကို စိစစ်ပြန်ကြား ပေးနိုင်ပါရန် ဖြစ်ပါသည် -

(က) နှစ်စဉ် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစား ညီညွတ်မှု ရှိ-မရှိ။

(ခ) ကုန်ကြမ်းဈေးနှုန်းနှင့် ကုန်ချောဈေးနှုန်းများ တင်ပြထားမှုသည် ဆီလျော်မှု ရှိ - မရှိ။

(ဂ) နှစ်စဉ် ထုတ်လုပ်မှုနှင့် စက်အင်အား / လူအင်အား အချိုးအစားညီမျှမှု ရှိ - မရှိ။

၄။ အထက်အပိုဒ်(၃)ပါ အချက်များအပြင် လုပ်ငန်းနှင့်စပ်လျဥ်းသည့် ကျွမ်းကျင်မှုနည်းပညာရပ်ပိုင်းဆိုင်ရာအချက်အလက်များကိုပါ အထူးပြု ပြန်ကြားပေးပါရန် ထပ်မံ မေတ္တာရပ်ခံအပ်ပါသည်။

(ဗိုလ်မှူးချုပ် မောင်မောင်သိမ်း)
ဥက္ကဋ္ဌ

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်
ငါးလုပ်ငန်းဦးစီးဌာန။

(၂) ပင်လယ် ဇကရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်ထံ သိရှိနိုင်ပါရန် နှင့် သဘောထား ရရှိရေး အတွက် သက်ဆိုင်ရာဌာနများနှင့် ဆက်သွယ် ညှိနှိုင်းဆောင်ရွက်ပါရန် အကြောင်းကြားပါသည်။

(၃) ရုံးလက်ခံ / မျှောစာတွဲ။

M-2227
22/12

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ၂၂ ရက်။

အကြောင်းအရာ။ ။ပင်လယ်ဇကရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Marine Acary Production Co., Ltd.)မှ ငါးအမှုန့်ကြိတ် စက်ရုံ နှင့် ရေခဲစက်ရုံ တည်ဆောက်ပြီး ငါးအမှုန့်နှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။

၁။ ပင်လယ်ဇကရီ ထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Marine Acary Production Co., Ltd.)မှ ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေး မြို့နယ်၊ ကဒုံကနိကျေးရွာအုပ်စု၊ ရေကျော်ကွင်း အမှတ် (၉၁၇)၊ ဦးပိုင်အမှတ်(၂/၈)ရှိ လန(၃၉)မြေ (၃၂.၃၂)ဧကတွင် ငါးအမှုန့်ကြိတ် စက်ရုံ နှင့် ရေခဲစက်ရုံ တည်ဆောက်၍ သန့်စင်ပြီး ငါးအမှုန့်နှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။ အလံ “၁”

၂။ ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကဒုံကနိ ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၁၇)တွင် ရေခဲစက်နှင့် ငါးအမှုန့်ကြိတ်စက်ရုံ တည်ဆောက်လျှက် ရှိသည်မှာ မှန်ကန်ပါကြောင်း၊ ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၏ ထောက်ခံချက် ကို ပူးတွဲ တင်ပြထားပါသည်။ အလံ “၂”

၃။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ကျပ် (၃၇၃.၇၂) သန်း ဖြစ်ပါသည်။ ယင်းတွင် စက်ပစ္စည်းတန်ဘိုး ကျပ်(၂၃၂.၇၂)သန်းပါဝင်ပြီး ပြည်တွင်းမှ ဝယ်ယူပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။ အလံ “၃”

၄။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာမည့် သန့်စင်ပြီး ငါးအမှုန့်များကို ပြည်ပသို့ (၃၀ %) တင်ပို့ပြီး၊ ပြည်တွင်းတွင် (၇၀ %) ရောင်းချမည် ဖြစ်ပါသည်။ ထိုင်းနိုင်ငံနှင့် မလေးရှားနိုင်ငံများသို့ တင်ပို့ရောင်းချရန် ရည်ရွယ်ထားကြောင်း ဖော်ပြထားပါသည်။ အလံ “၄”

၅။ လုပ်ငန်းမှ ထွက်ရှိသည့် ရေခဲများကို အဆိုပြုလုပ်ငန်းအတွက် (၄၀ %) အသုံးပြုပြီး ကျန် (၆၀ %) ကို ပြည်တွင်း၌ ဖြန့်ဖြူး ရောင်းချမည် ဖြစ်ပါသည်။

၆။ ကုန်ကြမ်းရရှိမှုနှင့် စပ်လျဉ်း၍ ဘိုကလေးမြို့နယ်၊ ပင်လယ်ကမ်းစပ်များတွင် ကုန်ကြမ်း ငါးအသေး/အမှုန့် (ပါကင်ငါး)များကို အများအပြားရရှိနိုင်သဖြင့် ဒေသခံ ပြည်သူများက ဖမ်းယူပြီး ကုမ္ပဏီသို့ လာရောက် ရောင်းချခြင်းဖြင့် လည်းကောင်း၊ ကုမ္ပဏီက ဒေသများသို့ သွားရောက် ဝယ်ယူခြင်းဖြင့်လည်းကောင်း၊ ရရှိနိုင်ပါကြောင်း ဖော်ပြထားပါသည်။ အလံ “၅”

၇။ လျှပ်စစ်ဓါတ်အားကို ကိုယ်ပိုင်Generator များဖြင့်သုံးစွဲမည် ဖြစ်ပြီး ၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်စေရန် ကာကွယ်ထားရှိမှု အစီအစဉ်၊ ရေဆိုးသန့်စင်မှုစနစ် (Waste Water Treatment System) စီစဉ် ဆောင်ရွက်မည့် အစီအစဉ် တို့ကို တင်ပြထားပါသည်။ အလံ “၆”

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်



၈။ ပြည်တွင်းလုပ်သား (၁၀၇) ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပြီး အလုပ်သမားများ သက်သာချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး အတွက် ဆောင်ရွက်ထားမှု အစီအစဉ်များကို တင်ပြ ထားပါသည်။ အလံ "၇"

၉။ စီးပွားရေးဆိုင်ရာ တွက်ချက်မှု လိုအပ်ချက်များကို စိစစ်ပြီး သတ်မှတ်ချက်နှင့် ကိုက်ညီပါက ကော်မရှင်အစည်းအဝေးတွင် တင်ပြပါမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာနသို့ သဘောထား တောင်းခံမည့် <u>စာချော</u> တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(ဗိုလ်မှူးကြီး သူရိန်ဇော်)
အတွင်းရေးမှူး

ဥက္ကဋ္ဌ

နောက်ဆက်တွဲ (      )

*မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ*

# ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်

**MARINE ACARY PRODUCTION CO., LTD.**

မှ

ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံ **(Fish Meal Plant)**နှင့်

ရေခဲစက်ရုံ **(Ice Making Plant)**

ကို

ရောဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကဒုံကျေးရွာအုပ်စု၊
ရေကျော်ကွင်းအမှတ် (၉၁၇)၊ ဦးပိုင်အမှတ် (၂/၈)၊ ဧရိယာ ဧက (၃၂.၃၂)

တွင်

တည်ထောင်ဆောင်ရွက်ရန်

*အဆိုပြုတင်ပြချက်*

MARINE ACARY PRODUCTION CO., LTD.
ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်
No, 102. Room-105, Nawaday Cinema Garden, Kaba Aye Pagoda Rd, Mayangone,
Yangon, Myanmar. Tel : 951-662147,664811, 664741 Ext - 105, Fax : 951- 666892

Acary Production Co., Ltd. No.... Date........

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။၂၀၁၀ ခုနှစ်၊ မတ်လ ( ၁၅ )ရက်။
စာအမှတ် ။ ။ **MAP/ MIC/ 2010 (4)**

**အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း။**

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ **"ပင်လယ်ဧကရီ ထုတ်လုပ်မှုကုမ္ပဏီလီမိတက်"** **(Marine Acary Production Co., Ltd.)**သည် ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကဒုံကျေးရွာအုပ်စု၊ ရေကျော်ကြီးကွင်းအမှတ် (၉၀၇)၊ ဦးပိုင်အမှတ် (၂/၈)၊ ဧရိယာဧက (၃၂. ၃၂)တွင် ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံ **(Fish Meal Plant)**နှင့် ရေခဲစက်ရုံ **(Ice Making Plant)** တည်ထောင်ပြီး၊ အရည်အသွေးကောင်းမွန်သည့် သန့်စင်ပြီးငါးအမှုန့်များကို ပြည်ပသို့ ၁၀% တင်ပို့၍ ပြည်တွင်း၌ ၉၀% ရောင်းချသည့်လုပ်ငန်းကို ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများကို ပေးပို့တင်ပြလျှောက်ထားခဲ့ပါသည်။

သို့ဖြစ်ပါ၍ **"ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်"** **(Marine Acary Production Co., Ltd.)** မှ တင်ပြခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ဖြင့် ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက်တင်ပြခဲ့ရာ ကုန်သွယ်မှုမူဝါဒကောင်စီက သဘောတူခွင့်ပြုခဲ့သဖြင့် အစိုးရအဖွဲ့သို့ တင်ပြနိုင်ရန်အတွက် အဆိုပြုချက်(၁၅)စုံကို **Adobe Acrobat Reader (PDF) File** ဖြင့် ထည့်သွင်းထားသော **CD Copy** နှင့်အတူ ပူးတွဲပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

**Daw Nan Aung Lu**
Director
Marine Acary Production Co., Ltd.

MARINE ACARY PRODUCTION CO., LTD.
ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်
No, 102. Room-105, Nawaday Cinema Garden, Kaba Aye Pagoda Rd, Mayangone,
Yangon, Myanmar. Tel : 951-662147, 664811, 664741 Ext - 105, Fax : 951- 666892

Marine Acary Production Co., Ltd.
No.... .....
Date..........

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၀)ရက်။
စာအမှတ် ။ ။ **MAP/ MIC/ 2010 (3)**

**အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း။**

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ **“ပင်လယ်ဧကရီ ထုတ်လုပ်မှုကုမ္ပဏီလီမိတက်” (Marine Acary Production Co., Ltd.)**သည် ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကဒုံကျေးရွာအုပ်စု၊ ရေကျော်ကြီးကွင်းအမှတ် (၉၁၇)၊ ဦးပိုင်အမှတ် (၂/၈)၊ ဧရိယာဧက (၃၂.၃၂)တွင် ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံ **(Fish Meal Plant)**နှင့် ရေခဲစက်ရုံ **(Ice Making Plant)** တည်ထောင်ပြီး၊ အရည်အသွေးကောင်းမွန်သည့် သန့်စင်ပြီးငါးအမှုန့်များကို ပြည်ပသို့ ၁၀% တင်ပို့၍ ပြည်တွင်း၌ ၉၀% ရောင်းချသည့်လုပ်ငန်းကို ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများကို ပေးပို့တင်ပြလျှောက်ထားခဲ့ပါသည်။

သို့ဖြစ်ပါ၍ **“ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်” (Marine Acary Production Co., Ltd.)** မှ တင်ပြခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ဖြင့် ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက်တင်ပြနိုင်ရန် အဆိုပြုချက်(၂၇)စုံကို **Adobe Acrobat Reader (PDF) File** ဖြင့် ထည့်သွင်းထားသော **CD Copy** နှင့်အတူ ပူးတွဲပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

**Daw Nan Aung Lu**
Director
Marine Acary Production Co., Ltd.

**MARINE ACARY PRODUCTION CO., LTD.**
**ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်**
No, 102. Room-105, Nawaday Cinema Garden, Kaba Aye Pagoda Rd, Mayangone,
Yangon, Myanmar. Tel : 951-662147, 664811, 664741 Ext - 105, Fax : 951-666892

Marine Acary Production Co., Ltd.
No.......
Date.........

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၁၀ခုနှစ်၊ ဇန်နဝါရီလ (၂၈)ရက်။
စာအမှတ်။ ။ **MAP/ MIC/ 2010 (2)**

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ငါးအမှုန့်ကြိတ်စက်ရုံနှင့်ရေခဲစက်ရုံ တည်ထောင်ရန် အဆိုပြုချက်အပေါ် ပြင်ဆင်၍ပြန်လည်တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ (၁) မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၂၀. ၁. ၂၀၁၀) ရက်စွဲပါစာအမှတ်-၁/၂၀၀(ည)/၅၁၀၀/၁(၅၁/၂၀၁၀)

(၂) "ပယ်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်" (Marine Acary **Production Co., Ltd.**)၏ (၁၇. ၁၂. ၂၀၀၉)ရက်စွဲပါ စာအမှတ်- **MAP/ MIC/ 2009(1)**

၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ **"ပယ်လယ်ဧကရီ ထုတ်လုပ်မှုကုမ္ပဏီလီမိတက်" (Marine Acary Production Co., Ltd.)** သည် ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကဒုံကျေးရွာအုပ်စု၊ ရေကျော်ကြီးကွင်းအမှတ် (၉၁၇)၊ ဦးပိုင်အမှတ် (၂/၈)၊ ဧရိယာဧက (၃၂. ၃၂)တွင် ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံ **(Fish Meal Plant)**နှင့် ရေခဲစက်ရုံ **(Ice Making Plant)** တည်ထောင်ရန် အထက်ရည်ညွှန်းချက်ပါစာဖြင့် အဆိုပြုတင်ပြခဲ့ပါသည်။

၂။ ကျွန်မတို့၏ **"ပယ်လယ်ဧကရီထုတ်လုပ်မှုကုမ္ပဏီလီမိတက်"**(Marine Acary Production Co., Ltd.)သည် မူလအဆိုပြုတင်ပြစဉ်က ကုန်ကြမ်းဈေးနှုန်းနှင့် ပြည်တွင်း၊ ပြည်ပရောင်းဈေးနှုန်းများကို ပြည်တွင်းတွင် လက်လှမ်းမီသရွေ့ စုံစမ်းမေးမြန်းပြီး ခန့်မှန်းတွက်ချက်ထားခဲ့ရပါသည်။ ကျွန်မတို့သည် အဆိုပါလုပ်ငန်းကိုယခုမှစတင်၍ ပထမဆုံးလုပ်ကိုင်ရခြင်းဖြစ်သဖြင့် အတွေ့အကြုံနည်းပါးသေး၍ ကုန်ကြမ်းရရှိမှု ကုန်ကြမ်းဈေးနှုန်းနှင့် ပြည်တွင်း၊ ပြည်ပရောင်းဈေးနှုန်းများမှာ လက်တွေ့ ဖြစ်ပေါ် နေသော ဈေးနှုန်းများနှင့် များစွာကွာဟနေကြောင်း နောင်အခါမှသိရှိရသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့သော အဆိုပြုချက်တွင် ကုန်ကြမ်းဈေးနှုန်းနှင့် ပြည်တွင်း၊ ပြည်ပ ရောင်းဈေးနှုန်းများကို ပြန်လည်ပြင်ဆင်ခွင့်ပြုပါရန် မေတ္တာရပ်ခံလျှောက်ထားအပ်ပါသည်။

၃။ ကျွန်မတို့၏ **"ပယ်လယ်ဧကရီထုတ်လုပ်မှု ကုမ္ပဏီလီမိတက်"(Marine Acary Production Co., Ltd.)** သည် လက်တွေ့ ဖြစ်ပေါ်ဆောင်ရွက်နိုင်သည့် အနေအထားကို လေ့လာညှိနှိုင်း ဆောင်ရွက်ခဲ့သဖြင့် အဆိုပြုချက်ကို လိုက်လျောညီထွေ ပြင်ဆင်ရန်လိုအပ်နေပါသည်။ သို့ဖြစ်ပါ၍ ကုန်ကြမ်းဝယ်ယူရရှိမှုကို မူလက တစ်နှစ်လျှင် တန် (၃၀၀၀၀)မှ တန် (၁၂၀၀၀)သို့လည်းကောင်း၊ ကုန်ကြမ်းဈေးနှုန်း မူလတစ်တန်လျှင် ကျပ်(၁၆,၀၀၀)မှ ယခုကျပ် (၁၆၀,၀၀၀) သို့လည်းကောင်း၊ ပြည်တွင်းကုန်ချောရောင်းဈေးနှုန်း မူလတစ်တန်လျှင်ကျပ် (၁၀၀,၀၀၀)မှ ယခုကျပ်(၉၀၀,၀၀၀)သို့ လည်းကောင်း ပြည်ပရောင်းဈေးနှုန်း မူလတစ်တန်လျှင် **US$ 550** မှ ယခုတစ်တန်လျှင် **US$ 900** သို့ပြောင်းလဲပြင်ဆင်တွက်ချက်ရပါသည်။ ထို့အပြင် ကျွန်မတို့ကုမ္ပဏီသည် ပြည်ပသို့တင်ပို့ရန် ဈေးကွက်မရှိသေးပဲ၊ ပြည်ပတင်ပို့ရန် ရည်ရွယ်ချက်သာရှိပါသေးသဖြင့် ပြည်ပတင်ပို့မှုကို မူလ ၃၀%မှ ယခု ၁၀%သို့ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် မေတ္တာရပ်ခံအပ်ပါသည်။ ထိုသို့ ကုန်ကြမ်း ဝယ်ယူမှု၊ ပြည်ပတင်ပို့မှု၊ ကုန်ချောရောင်း ဈေးနှုန်းများပြောင်းလဲသွားမှုကြောင့် ဝင်ငွေနှင့် အသုံး စရိတ်များပါ အထိုက်အလျောက် အပြောင်းအလဲများဖြစ်သွားရပါသည်။ ထို့ကြောင့် ကျွန်မတို့ ပြန်လည် ပြင်ဆင်တွက်ချက်ထားချက်များကို လိုအပ်သလို ဆက်လက်ဆောင်ရွက်ပေးပါရန် တင်ပြ အပ်ပါသည်။ ထို့အပြင်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့် **Permit** ရရှိနိုင်ရေးအတွက် ဆောင်ရွက်ပေးပါရန်နှင့်လိုအပ်သလို လမ်းညွှန်မှုပေးပါရန် မေတ္တာရပ်ခံ၊ အနူးအညွတ်၊ အသနားခံ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

(signature)

**Daw Nan Aung Lu**
**Director**
**Marine Acary Production Co., Ltd.**

မိတ္တူကို
(၁) မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၊ နေပြည်တော်။
(၂) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန၊ ရန်ကုန်မြို့။
(၃) ရုံးလက်ခံ - လိုအပ်သလိုဆောင်ရွက်နိုင်ရန်ပေးပို့ပါသည်။

**MARINE ACARY PRODUCTION CO., LTD.**
**မရင်းအကေရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်**
No, 102. Room-105, Nawaday Cinema Garden, Kaba Aye Pagoda Rd, Mayangone,
Yangon, Myanmar. Tel : 951-662147, 664811, 664741 Ext - 105, Fax : 951- 666892

Marine Acary Production Co., Ltd.
No......
Date.........

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ။ ။ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ( ၁၇ ) ရက်၊
စာအမှတ် ။ ။ MAP/ MIC/ 2009(1)

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ငါးအမှုန့်ကြိတ်စက်ရုံနှင့် ရေခဲစက်ရုံ တည်ထောင်ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြလျှောက်ထားခြင်း။

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ "ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်" (Marine Acary Production Co., Ltd.) သည် ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကဒုံကျေးရွာအုပ်စု၊ ရေကျော်ကြီးကွင်းအမှတ် (၉၁၇)၊ ဦးပိုင်အမှတ် (၂/၈)၊ ဧရိယာ ဧက (၃၂.၃၂)တွင် ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံ (Fish Meal Plant) နှင့် ရေခဲစက်ရုံ (Ice Making Plant) တည်ထောင်ပြီး၊ အရည်အသွေးကောင်းမွန်သည့် သန့်စင်ပြီး ငါးမှုန့်များကို ပြည်ပသို့ ၁၀% တင်ပို့၍၊ ပြည်တွင်း၌ ၉၀% ရောင်းချသည့် လုပ်ငန်းနှင့် ရေခဲကို ပြည်တွင်း၌သာ ရောင်းချသည့် လုပ်ငန်းများကို ခွင့်ပြုမိန့်ရရှိနိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ကို ပေးပို့တင်ပြ လျှောက်ထားအပ် ပါသည်။

လေးစားစွာဖြင့်

**Daw Nan Aung Lu**
**Director**
**Marine Acary Production Co., Ltd.**

လျှို့ဝှက်

၇

# MARINE ACARY PRODUCTION CO., LTD.
## ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်

No, 102. Room-105, Nawaday Cinema Garden, Kaba Aye Pagoda Rd, Mayangone,
Yangon, Myanmar. Tel : 951-662147, 664811, 664741 Ext - 105, Fax : 951- 666892

Marine Acary Production Co., Ltd.
No.... .....
Date..........

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ။ ။ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ( ၁၇ ) ရက်၊
စာအမှတ် ။ ။ MAP/ MIC/ 2009(2)

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂နှင့် ၁၃တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် "ပင်လယ်ဧကရီထုတ်လုပ်မှုကုမ္ပဏီလီမိတက်" (Marine Acary Production Co., Ltd.) သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကဒုံကျေးရွာအုပ်စု၊ ရေကျော်ကြီးကွင်းအမှတ် (၉၁၇)၊ ဦးပိုင်အမှတ် (၂/၈)၊ ဧရိယာ ဧက (၃၂.၃၂)တွင် တစ်နေ့တန် (၅၀)ကျ ခေတ်မီငါးအမှုန့် ကြိတ်စက်ရုံနှင့် တစ်နေ့တန် (၁၅၀)ကျ ရေခဲစက်ရုံတည်ထောင်ပြီး၊ အရည်အသွေး ကောင်းမွန်သည့် သန့်စင်ပြီးငါးအမှုန့်များကို ပြည်ပသို့ ၁၀% တင်ပို့ရောင်းချပြီး၊ ပြည်တွင်း၌ ၉၀% ရောင်းချရန်နှင့် ရေခဲများကို ပြည်တွင်း၌သာရောင်းချရန် ရည်ရွယ်လျက် ခေတ်မီနည်းပညာ၊ စက်ပစ္စည်း ကရိယာများဖြင့် ထုတ်လုပ်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားအပ်ပါသည်။ "ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်" (Marine Acary Production Co., Ltd.) သည် မြန်မာ့ပင်လယ်ပြင်မှ ဖမ်းယူရရှိသော ငါးသေး/ ငါးမှုန့်များ ဒေသအခေါ်အဝေါ် ပါကင်ငါးများကို ဒေသခံပြည်သူများထံမှဝယ်ယူပြီး ခေတ်မီစက်ကြီး များဖြင့် ကြိတ်ခွဲသန့်စင်ပြီး အရည်အသွေးပြည့်ဝသည့် သန့်စင်ပြီး ငါးအမှုန့်အဖြစ် ပြုပြင်ထုတ်လုပ်ကာ နိုင်ငံတကာဈေးကွက်တွင် ရောင်းတန်းဝင်သော ငါးအမှုန့်ကို ပြည်ပသို့ ၁၀% တင်ပို့ပြီး၊ ပြည်တွင်း၌ ၉၀% ရောင်းချမည်ဖြစ်ပါသည်။ အထူးသဖြင့် ထိုင်းနိုင်ငံနှင့် မလေးရှားနိုင်ငံများသို့ တင်ပို့ရန်ရည်ရွယ် ထားပါသည်။ ပြည်ပဈေးကွက် မရှိသေးသော်လည်း ကုန်ပစ္စည်းထွက်လာသောအခါတွင် ဈေးကွက်ရှာဖွေ တင်ပို့ရောင်းချရန် ရည်ရွယ်ပါသည်။ ပြည်ပသို့တင်ပို့ရာတွင် ဈေးကွက်ရရှိလာပါက ယခုထက်ပိုမို တင်ပို့ရန် ရည်ရွယ်ထားပါသည်။ ပြည်တွင်း ဈေးကွက်မှာ တိရိစ္ဆာန်အစားအစာအဖြစ် အသုံးပြုနိုင်သဖြင့် ဈေးကွက်သေချာပါသည်။ ဈေးကွက်အခြေအနေ ပေါ်မူတည်၍ နိုင်ငံတကာဈေးကွက်သို့ တိုးဖော်ရန်

လျှို့ဝှက်

ရည်ရွယ်ပါသည်။ ထိုကဲ့သို့ ပြည်ပတင်ပို့ နိုင်ပါက ကုမ္ပဏီအနေ ဖြင့်လည်းကောင်း၊ နိုင်ငံတော်အနေဖြင့် လည်းကောင်း၊ နိုင်ငံခြားဝင်ငွေများ ပိုမိုရရှိလာပြီး၊ အမျိုးသားစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက် အကူဖြစ်စေပါသည်။ ထို့အပြင် ဒေသခံ လုပ်သားပြည်သူများအနေဖြင့် ဝင်ငွေများတိုးတက်ရရှိလာပြီး၊ လူနေမှုအဆင့်အတန်း မြင့်မားလာမည် ဖြစ်ပါသည်။ ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်သည် ၂၀၀၈ ခုနှစ်၊ နာဂစ်မုန်တိုင်းဒဏ် အလူးအလဲခံခဲ့ရပြီးနောက် ပြန်လည်ထူထောင်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် နိုင်ငံတော်အစိုးရနှင့် လက်တွဲပြီး၊ ဒေသတွင်း စီးပွားရေး၊ လူမှုရေး ဖွံ့ ဖြိုးတိုးတက် လာစေရန် ရည်ရွယ်၍ စက်ရုံတည်ဆောက် ခြင်းဖြစ်ပါသည်။ ဒေသခံပြည်သူများအလုပ်အကိုင်နှင့် ဝင်ငွေရရှိလာနိုင်သဖြင့် လူနေမှုအဆင့်အတန်း မြင့်လာစေပြီး၊ ဒေသဖွံ့ ဖြိုးမှုကို ထောက်အကူဖြစ်စေ ပါသည်။

၂။ ဘိုကလေးမြို့နယ်၊ ပင်လယ်ကမ်းစပ်များတွင် ကုန်ကြမ်း ငါးအသေး/ အမှုန့်(ပါကင်ငါး) များကို အများ အပြားရရှိနိုင်သဖြင့် ဒေသခံပြည်သူများက ဖမ်းယူပြီး ကုမ္ပဏီသို့ လာရောက်ရောင်းချခြင်း (သို့မဟုတ်) ကုမ္ပဏီက ဒေသအရောက် သွားရောက်ဝယ်ယူခြင်းများပြုလုပ်ပါမည်။ ရေခဲစက်ရုံမှ ထွက်ရှိ သော ရေခဲများကို ကုန်ကြမ်းငါးအမှုန့်/ အသေးများ (ပါကင်ငါး) မပုတ်မသိုးမပျက်စီးစေရန် လုပ်ငန်းသုံး အဖြစ် အသုံးပြုပြီး၊ ပိုလျှံသောရေခဲများကို ငါးဖမ်းစက်လှေများနှင့် လုပ်သားပြည်သူများ စားသုံးရန် သက်သာသော ဈေးနှုန်းဖြင့် ရောင်းချပေးမည်ဖြစ်ပါသည်။ စက်ရုံသုံးအတွက်လိုအပ်သော ရေကောင်း ရေသန့်များကိုလည်း အချိုပတ်ဝန်းကျင်ရှိ ပြည်သူများအား သောက်သုံးရေအဖြစ် အခမဲ့ဖြန့်ဝေပေးမည် ဖြစ်ပါသည်။ "ပင်လယ်ဧကရီထုတ်လုပ်မှုကုမ္ပဏီလီမိတက်"(Marine Acary Production Co., Ltd.) သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်-၁၅၄၅/၂၀၀၈-၂၀၀၉(၁၆.၃.၂၀၀၉)ဖြင့်မှတ်ပုံတင်ထားပြီး ငါးအမှုန့် ကြိတ် စက်ရုံနှင့် ရေခဲစက်ရုံတည် ဆောက်ရန်ရည်ရွယ်၍ ဖွဲ့စည်းတည်ထောင်ထားခြင်းဖြစ်ပါသည်။ ဈေးကွက်ဝင်ပြီး ဈေးနှုန်းပိုမိုရရှိနိုင်သော ငါးအမှုန့်နှင့် ရေခဲများကိုထုတ်လုပ်ရန် ခေတ်မီစက်ရုံကို တည်ထောင်ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းဖြစ်ပါသည်။ ငါးအမှုန့်ကြိတ်စက်ရုံနှင့် ရေခဲစက်ရုံတည် ဆောက်ရန်အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှုကျပ်(၅၁၄၀.၄၁)သိန်း ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ စက်ရုံ အတွက်လိုအပ်သော စက်ပစ္စည်းကရိယာတန်ဖိုးကျပ် (၂၈၄၀.၄၁)သိန်းကို ပြည်တွင်းမှဝယ်ယူ တပ်ဆင် မည်ဖြစ်ပါသည်။ စက်ရုံအတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်(၅၁၄၀.၄၁)သိန်းတွင် ငွေသားကျပ်သိန်း (၁၀၀)၊ စက်ပစ္စည်းကရိယာတန်ဖိုးကျပ် (၂၈၄၀.၄၁)၊ မြေတန်ဖိုးကျပ် (၂၀၀)သိန်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းတန်ဖိုးကျပ် (၁၀၀)သိန်း၊ အဆောက်အဦးကျပ် (၉၁၀)သိန်း၊ ကုန်ကြမ်းတန်ဖိုး ကျပ် (၉၉၀)သိန်းတို့ဖြင့် ထည့်ဝင်ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ စက်ရုံအတွက်လိုအပ်သော မြေ (၃၂.၃၂) ဧကကို အစုရှယ်ယာရှင် ဦးလှဖေက ကျပ်သိန်း (၂၀၀)တန်ဖိုးသတ်မှတ်၍ ထည့်ဝင်မည်ဖြစ်ပါသည်။ အဆိုပါ မြေနေရာမှာ လန (၃၉) ရရှိ ပြီးဖြစ်ပါသည်။

၃။ စက်ရုံမှထွက်ရှိသော သန့်စင်ပြီး ငါးအမှုန့်များကို ပြည်ပသို့ ၁၀% တင်ပို့ရောင်းချရာ တွင် နိုင်ငံတကာသတ်မှတ်ဈေးနှုန်းထက် မနိမ့်စေဘဲ တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ စက်ရုံအတွက် လိုအပ်သော ဝန်ထမ်းများကို ပြည်တွင်းရှိအတတ်ပညာရှင်များကိုသာ အသုံးပြုထုတ်လုပ်သွားမည်ဖြစ်ပါ သည်။ စက်ရုံလည်ပတ်ခွင့်ရရှိပါက အလုပ်သမား(၁၀၇)ဦးခန့် အလုပ်ရရှိမည် ဖြစ်ပါသည်။ ငါးအမှုန့် စက်ရုံတည်ထောင်ခြင်းဖြင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အထူးအစီအမံများ ပြုလုပ်ထားရှိမည်

ဖြစ်ပါသည်။ ယင်းကဲ့သို့ အဆိုပြုလုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် **Waste Water Treatment Plant** ကို တည်ဆောက်အသုံးပြုမည်ဖြစ်ပါသည်။ စက်ရုံမှထွက်ရှိလာသော အနံများကို ပတ်ဝန်းကျင်သို့ မပြန့်ပွားစေရန် ခေတ်မီနည်းတို့ဖြင့် စိစစ်ပြီးမှ အနံထုတ်မည်ဖြစ်ပါသည်။ ထို့အပြင် စက်ရုံသည် လူနေရပ်ကွက်နှင့်ဝေးသဖြင့် ပါတ်ဝန်းကျင်အတွက်အနှောက်အယှက် မဖြစ်စေနိုင်ပါ၊ ရေခဲစက်ရုံအတွက် အမိုးနီးယားစာတ်ငွေ့ကိုအသုံးပြု၍ ရေခဲများကိုထုတ်လုပ်မည်ဖြစ်ပါသည်။ ဒေသခံအလုပ်သမားများ အလုပ်အကိုင်များရရှိမည်ဖြစ်ပြီး၊ အလုပ်သမားများ၏ လစာကိုလည်း လက်ရှိဖြစ်ပေါ်လျှက်ရှိသော လစာနှုန်းထားထက် မနိမ့်စေပဲပေးသွားမည်ဖြစ်ပြီး၊ အလုပ်သမားများ၏ အကျိုးခံစားခွင့်များကို အလုပ်သမားဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ထို့အပြင် "ပင်လယ်ကေရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်" သည် စီးပွားရေး လုပ်ငန်းများကိုသာ ဆောင်ရွက်လျှက်ရှိရာ ကုမ္ပဏီသည်လည်းကောင်း၊ အစုရှယ်ယာရှင်/ ဒါရိုက်တာများသည် **(Black List)** နာမည်ပျက်စာရင်းတွင်ပါဝင်ခြင်း မရှိပါကြောင်းတင်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း၊ စက်မှုနည်းပညာရပ်များ တိုးတက်လာစေရန်အတွက်လည်းကောင်း၊ ဒေသဆိုင်ရာ ဖွံ့ဖြိုးတိုးတက်မှု **(Regional Development)** ဖြစ်ပေါ်လာပြီး၊ အလုပ်အကိုင် အခွင့်အလမ်း **(Job Opportunity)** များ ရရှိလာမည်ဖြစ်ပါသည်။ မြန်မာနိုင်ငံ၏ စီးပွါးရေးဖွံ့ဖြိုး တိုးတက်လာစေရန် အတွက်လည်းကောင်း၊ ပြည်ပပို့ကုန်များ တိုးတက်တင်ပို့နိုင်ရန်အတွက်လည်းကောင်း၊ သားငါးကဏ္ဍမှထွက်ရှိသော လယ်ယာထွက် စွန့်ပစ်ထားသော ငါးသေး/ ငါးမှုန့်များ(ပါကင်ငါး)ကို တန်ဖိုးမြင့်ပစ္စည်း **(Value Added Goods)** ဖြစ်လာ စေပြီး၊ ဈေးနှုန်းကောင်းကောင်းရရှိခြင်းဖြင့် အမျိုးသားဝင်ငွေကို တိုးမြင့်စေပါသည်။ သို့ဖြစ်ပါ၍ ကျွန်တော်များ၏ လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့် ပြုပါရန် လျှောက်ထားအပ်ပါသည်။

၅။ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်အနေဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထား စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်၊

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

(ဂ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(ဃ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊

လေးစားစွာဖြင့်

**Daw Nan Aung Lu**
Director
**Marine Acary Production Co., Ltd.**

MARINE ACARY PRODUCTION CO., LTD.
ပင်လယ်ကေရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်
No, 102. Room-105, Nawaday Cinema Garden, Kaba Aye Pagoda Rd, Mayangone,
Yangon, Myanmar. Tel : 951-662147, 664811, 664741 Ext - 105, Fax : 951-666892

Marine Acary Production Co., Ltd.
No.
Date.

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ (၁၇) ရက်၊
စာအမှတ် ။ ။ MAP/ MIC/ 2009(3)

အကြောင်းအရာ။ ။"ပင်လယ်ကေရီထုတ်လုပ်မှု ကုမ္ပဏီလီမိတက်" (Marine Acary Production Co., Ltd.) မှ ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံနှင့် ရေခဲစက်ရုံများ တည်ထောင်ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ "ပင်လယ်ကေရီထုတ်လုပ်မှု ကုမ္ပဏီလီမိတက်" (Marine Acary Production Co., Ltd.) သည် ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကဒုံကျေးရွာအုပ်စု၊ ရေကျော်ကြီးကွင်းအမှတ် (၉၁၇)၊ ဦးပိုင်အမှတ် (၂/၈)၊ ဧရိယာဧက (၃၂.၃၂)တွင် "ခေတ်မီငါးအမှုန့်ကြိတ်နှင့် ရေခဲစက်ရုံ" တည်ထောင် ဆောင်ရွက်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားခြင်းဖြစ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်းဝန်ခံကတိပြုတင်ပြအပ်ပါသည်။
(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။
(ဂ) နိုင်ငံတော်အစိုးရမှမြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။ ဤလုပ်ငန်းကို ခွင့်ပြုမိန့်ရရှိပြီးပါက မြေပိုင်ရှင် အမည်ပေါက်ကို ကုမ္ပဏီအမည်သို့ ပြောင်းလဲလျှောက်ထားမည်ဖြစ်ပါသည်။
(ဃ) ထို့အပြင် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွါးစေရန်အတွက်လိုအပ်သော အစီအမံများ၊မီးဘေး ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ နည်းဥပဒေ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။
(င) မီးဘေးကြိုတင် ကာကွယ်မှုအတွက် အစီအမံများ ပြုလုပ်သွားမည်ဟုဝန်ခံကတိပြုပါသည်။

(စ) “ပင်လယ်ဧကရီထုတ်လုပ်မှု ကုမ္ပဏီလီမိတက်” (Marine Acary Production Co., Ltd.) အနေဖြင့် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/ တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်းဝန်ခံ ကတိပြုပါသည်။

(ဆ) “ပင်လယ်ဧကရီထုတ်လုပ်မှု ကုမ္ပဏီလီမိတက်” (Marine Acary Production Co., Ltd.) အနေဖြင့် စက်ပစ္စည်းများကို ပြည်တွင်းမှာပင် ဝယ်ယူတပ်ဆင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဇ) စက်ရုံမှထွက်ရှိလာသည့် သန့်စင်ပြီးငါးအမှုန့်များကို ပြည်ပသို့တင်ပို့ရန် ရည်ရွယ်ပါသည်။ ကနဦးတွင် ထိုင်းနိုင်ငံနှင့် မလေးရှားနိုင်ငံသို့တင်ပို့ရန် ဈေးကွက်ရှာဖွေမည်ဖြစ်ပါသည်။ ထို့နောက် ဈေးကွက်အသစ်များရှာဖွေပြီး အခြားနိုင်ငံများသို့ ဆက်လက်တင်ပို့ရန်ရည်ရွယ်ပါသည်။

(ဈ) ဤလုပ်ငန်းဖြင့် ပြည်ပပို့ကုန်မှရရှိသော နိုင်ငံခြားငွေများကို MICB (သို့မဟုတ်) MFTB ရှိ ကုမ္ပဏီ၏ နိုင်ငံခြားငွေစာရင်းသို့ မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ည) ဤလုပ်ငန်းအတွက် ကုန်ပစ္စည်းများ တင်သွင်း/ တင်ပို့ရာတွင် ရေကြောင်း/ လေကြောင်း ခရီးတို့ဖြင့်သာ ဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

Daw Nan Aung Lu
Director
Marine Acary Production Co., Ltd.

တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ
ဧရာဝတီတိုင်း၊ ပုသိမ်မြို့
စာအမှတ်၊ ၅/ ၅ - ၁၁/ဦ.၆
ရက်စွဲ ၊ ၂၀၀၉ ခုနှစ်၊ အောက်တိုဘာလ (၂၆) ရက်

## ထောက်ခံချက်

ဦးလှဖေ၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ် ၊ ၁၂ /မရက (နိုင်) ၁၄၆၉၉၄ သည် ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကဒုံကနိကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၁၇) တွင် ရေခဲစက်နှင့်ငါးအမှုန့်ကြိတ်စက်ရုံတည်ဆောက်လျက်ရှိသည်မှာ မှန်ကန်ကြောင်းထောက်ခံပါသည်။

အတွင်းရေးမှူး
တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ
ဧရာဝတီတိုင်း၊ ပုသိမ်မြို့

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ ( မနသ–၁)

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

စာအမှတ်၊ MAP/ MIC/ 2009(4)

ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ (၁၇) ရက်။

ကျွန်တော် /ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏–

| | |
|---|---|
| (က) အမည် | – ဒေါ်နန်းအောင်လှ |
| (ခ) အဖအမည် | – ဦးအိုက်စော |
| (ဂ) နိုင်ငံသား / အမျိုးသားမှတ်ပုံတင်အမှတ် | –၁၃ /လရန (နိုင်) ၁၁၆၄၀၉ |
| (ဃ) နေရပ်လိပ်စာ | – အမှတ် (၁၀၂)၊ နဝဒေးရပ်ရှင်ရုံဥယျာဉ်အိမ်ယာ၊ ကမ္ဘာအေးဘုရားလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း။ |
| (င) လူမျိုး၊ဘာသာ | – မြန်မာ၊ ဗုဒ္ဓဘာသာ |
| (စ) အဖွဲ့အစည်းအမည် | – "ပင်လယ်ဇကေရီထုတ်လုပ်မှု ကုမ္ပဏီလီမိတက်" **Marine Acary Production Co., Ltd.** |
| (ဆ) လုပ်ငန်းအမျိုးအစား | – ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံနှင့် ရေခဲစက်ရုံ |
| (ဇ) အဖွဲ့အစည်းတည်နေရာအရပ် | – အမှတ် (၁၀၂)၊ နဝဒေးရပ်ရှင်ရုံဥယျာဉ်အိမ်ယာ၊ ကမ္ဘာအေးဘုရားလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏–

(က) အမည် (၁) .......................... (၂) ..............................
.......................... ..............................
.......................... ..............................

(ခ) အဖအမည် (၁) .......................... (၂) ..............................
.......................... ..............................
.......................... ..............................

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်
(၁) .......................... (၂) ..............................
.......................... ..............................
.......................... ..............................

(ဃ) နေရပ်လိပ်စာ (၁) .......................... (၂) ..............................
.......................... ..............................
.......................... ..............................

(င) လူမျိုးဘာသာ (၁) .......................... (၂) ..............................
.......................... ..............................
.......................... ..............................

(စ) အဖွဲ့အစည်းအမည် ......................................................................
(ဆ) လုပ်ငန်းအမျိုးအစား ......................................................................
(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ......................................................................
......................................................................

( နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန် )

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား–

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း – ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံနှင့် ရေခဲစက်ရုံ တည်ထောင်၍သန့်စင်ပြီး ငါးအမှုန့်များကို ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ရေခဲထုတ်လုပ်ခြင်းလုပ်ငန်း၊

(ခ) ဝန်ဆောင်မှုလုပ်ငန်း – ......................................................................
( ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန် )

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

-------------- လီမိတက်ကုမ္ပဏီ --------------

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

-------------------------------------------

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

-------------------------------------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဌာန်–

(က) တစ်ဦးတည်းပိုင် – ..............................................................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း – ..............................................................

(ဂ) လီမိတက်ကုမ္ပဏီ – "ပင်လယ်ဧကရီ ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်"
(Marine Acary Production Co., Ltd) နောက်ဆက်တွဲ (၁)

(ဃ) သမဝါယမအသင်း – ..............................................................

( အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မ,တည်ငွေရင်းအချိုးအစား၊စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည်၊နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန် )

၆။ ဖက်စပ်/အစုစပ်လုပ်ငန်း ဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေအချိုးအစားနှင့်ပမာဏ

..............................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား ..............................................................

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ ..............................................................

( နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန် )

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီဖြစ်ပါက–

(က) ခွင့်ပြုမတည်ငွေရင်း – ကျပ် ၁,၀၀၀,၀၀၀,၀၀၀/– (ကျပ်သန်းတစ်ထောင်တိတိ)
(ခ) အစုရှယ်ယာ အမျိုးအစား – ကျပ် ၁၀၀,၀၀၀ တန် အစုရှယ်ယာ ၁၀,၀၀၀
(ဂ) အစုရှယ်ယာများကထည့်ဝင်မည့်အစုရှယ်ယာပမာဏ– ရှယ်ယာ(ကျပ် ၄,၂၅၀)

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ–

| (က) မတည်ငွေရင်းပမာဏ(ထောင်ပေါင်း) | ကိုယ်ပိုင် (ကျပ်) | နိုင်ငံခြားငွေ (US$) | စုစုပေါင်း (ကျပ်) |
|---|---|---|---|
| (၁) ငွေပမာဏ – | ၁၀,၀၀၀ | – | ၁၀,၀၀၀ |
| (၂) စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၂) | ၂၈၄,၀၆၁ | – | ၂၈၄,၀၆၁ |
| (၃) မြေ | ၂၀,၀၀၀ | – | ၂၀,၀၀၀ |
| (၄) စက်ရုံအဆောက်အအုံ နောက်ဆက်တွဲ (၃) | ၉၁,၀၀၀ | – | ၉၁,၀၀၀ |
| (၅) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ နောက်ဆက်တွဲ (၄) | ၁၀,၀၀၀ | – | ၁၀,၀၀၀ |
| (၆) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ နောက်ဆက်တွဲ (၅) | ၉၉,၀၀၀ | – | ၉၉,၀၀၀ |
| စုစုပေါင်း | ၅၁၄,၀၆၁ | – | ၅၁၄,၀၆၁ |

| (ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် | ကျပ် (၀၀၀) | US$(၀၀၀) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏တန်ဖိုးပမာဏ | – | – |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများ၏တန်ဖိုး | – | – |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | – | – |
| စုစုပေါင်း | – | – |

(ဂ) တည်ဆောက်မှုကာလ
– စက်ရုံ တည်ဆောက်လျှက်ရှိပါသည်။ (၆)လအတွင်း ပြီးစီးပါမည်။
– စက်များဝယ်ယူထားပြီးဖြစ်ပါသည်။ စက်များမတပ်ဆင်ရသေးပါ။

(ဃ) ပဏာမ စူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ – (၃)လ

(င) တည်ဆောက်မှု စတင်မည့်အချိန် – စက်ရုံတည်ဆောက်မှုပြီးပါကစက်များတပ်ဆင်ပါမည်။ ခွင့်ပြုမိန့်ရရှိပြီးလျှင်ရပြီးခြင်းစက်ပစ္စည်းများဆက်လက်တပ်ဆင်ပြီးပါက လုပ်ငန်းစတင်မည်ဖြစ်ပါသည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ–

(က) လုပ်ငန်းအမျိုးအစား – ခေတ်မီငါးအမှုန့်ကြိတ်စက်ရုံနှင့် ရေခဲစက်ရုံတည်ထောင်ပြီး သန့်စင်ပြီး ငါးအမှုန့်များကို ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ရေခဲထုတ်လုပ်ခြင်း။
(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုစသည့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ – ဧရာဝတီတိုင်း၊ ဖျာပုံခရိုင်၊ ဘိုကလေးမြို့နယ်၊ ကဒုံကျေးရွာအုပ်စု၊ ရေကျော်ကွင်းအမှတ် (၉၁၇)၊ ဦးပိုင်အမှတ် (၂/၈)၊

---

(ဂ) ဆောင်ရွက်ပုံနည်းစနစ် – သန့်စင်ပြီး ငါးအမှုန့်များကို ပြည်ပသို့ ၁၀% တင်ပို့ ရောင်းချမည်ဖြစ်ပြီး၊ ၉၀% ကို ပြည်တွင်း၌ရောင်းချမည်ဖြစ်ပါသည်။
– ရေခဲများကိုထုတ်လုပ်ပြီး၊ လုပ်ငန်းတွင်ပြန်လည်အသုံးပြု၍ ပိုလျှံလာသော ရေခဲများကို ဈေးကွက်တွင်ရောင်းချပါမည်။

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်–

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | ၁၀,၀၀၀ ဂါလံ |
| ၂။ | ဓါတ်ဆီ | ၂,၀၀၀ ဂါလံ |
| ၄။ | စက်ဆီ၊ချောဆီ | ၅၀၀ ဂါလံ |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်–

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | လိုအပ်သောလျှပ်စစ်ဓာတ်အားကို ကိုယ်ပိုင် |
| ၂။ ဒီဇယ်အင်ဂျင်စက်အင်အား | **Generator** များမှထုတ်ယူသုံးစွဲမည်ဖြစ်ပါသည်။ |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | **500 KVA** |
| ၄။ သဘာဝဓာတ်ငွေ့သုံးစက်အား | ............................ |
| ၅။ ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | ............................ |

(စ) နှစ်စဉ် ရေလိုအပ်ချက် ၃,၀၀၀,၀၀၀ ဂါလံ
( နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန် ) တစ်နေ့လျှင် ၁၀,၀၀၀ ဂါလံ

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး(သိန်း) |
|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း | | | |
| (၁) | | | |
| (၂) | | | |
| (၃) | | | |
| (၄) | | | |

နောက်ဆက်တွဲ ( ဖ )

၂။ အထောက်အကူကုန်ကြမ်း

(၁) ပီနံအိတ်ခွံ. ............... ...............
(၂) ............... ...............
(၃) ............... ...............

နောက်ဆက်တွဲ (၇)

၃။ စက်သုံးဆီ/ဓါတ်ငွေ့များ –

(၁)................ .............. .............. ..............
(၂)................ .............. .............. ..............

(ဇ) အဆောက်အအုံလိုအပ်ချက် – (၁) **Main Building** (၄၅ မီတာ x ၂၀ မီတာ) အမြင့် (၆)မီတာ၊ **RC/ Steel Column**
(၂) **Ice Factory Roof Area (105 x 50) x (20 x 20), RC Related Work)**

နောက်ဆက်တွဲ (၃)

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝင်းလိုအပ်ချက် – မြေ(၃၂.၃၂)ဧက (၁၃၀,၇၉၄.၃၉) စတုရန်းမီတာ ကဒုံကျေးရွာအုပ်စု၊ ရေကျော်ကြီးကွင်း၊ အမှတ် (၉၁၇)၊ ဦးပိုင်အမှတ် (၂/၈)၊

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု (တစ်နှစ်ပျမ်းမျှ)

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး(၀၀၀) |
|---|---|---|---|---|
| | (၁)ငါးအမှုန့် | မ/တန် | | |
| | (၂) ရေခဲ | | | |

နောက်ဆက်တွဲ (၈)

(ဋ) ရောင်းချမည့်နည်းစနစ် – ပြည်ပသို့ ၁၀% တင်ပို့ရောင်းချပြီး၊ ပြည်တွင်း၌ ၉၀% ရောင်းချမည်ဖြစ်ပါသည်။

၁၀။ နှစ်စဉ်ကုန်ထုတ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ –

| | ခန့်မှန်းခြေ(ထောင်ပေါင်း) ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | ၁၀,၀၀၀ | – |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | – | – |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | – | – |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | – | – |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | – | – |

နောက်ဆက်တွဲ (၈) (၉)

၁၁။ ဆောင်ရွက်မည့် စီးပွါးရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း –

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ –

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| ဝန်ထမ်း | ၁၀၇ ဦး |

နောက်ဆက်တွဲ ( ၁၂ )

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ –

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|

......... မလိုအပ်ပါ ............

၁၂။ စီးပွါးရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ –

| | ကျပ်ငွေ (ထောင်ပေါင်း) | နိုင်ငံခြားငွေ (ထောင်ပေါင်း) |
|---|---|---|
| (က) နှစ်စဉ်ဝင်ငွေရရှိမှု နောက်ဆက်တွဲ ( ၈ ) | – | – |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် နောက်ဆက်တွဲ ( ၉ ) | – | – |
| (ဂ) နှစ်စဉ်အသားတင်အမြတ် နောက်ဆက်တွဲ ( ၉ ) | – | – |
| (ဃ) နှစ်အလိုက်ရင်းနှီးမြုပ်နှံမှု (ပထမနှစ်) | ၅၁၄,၀၄၁ | – |
| (င) အရင်းကျေကာလ နောက်ဆက်တွဲ ( ၁၀ ) (၁၁) | – (၅)နှစ် (၉)လ | IRR = 19% |

(စ) အခြား အကျိုးအမြတ်များ – အလုပ်အကိုင်ပိုမိုရရှိ၍ နည်းပညာသစ်များရရှိပြီး၊ ဒေသဖွံ့ဖြိုးတိုးတက်ကာ၊နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေ ရရှိမည်ဖြစ်ပါသည်။

(ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ – အလုပ်သမား ၁၀၇ ဦး အလုပ်အကိုင်ရရှိပါမည်။

နောက်ဆက်တွဲ ( ၁၂ )

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပရိုညာဥ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါကလက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ..............................

အမည်၊ Daw Nan Aung Lu
Director

ရာထူး၊ Marine Acary Production Co., Ltd.

(လျှောက်ထားသူ)

# Marine Acary Production Co., Ltd.

## List of Executives already appointed

| စဉ် | အမည် | နိုင်ငံသား/ မှတ်ပုံတင်အမှတ် | ရာထူး အဆင့် | ရှယ်ယာ အချိုးအစား | နေရပ်လိပ်စာ |
|---|---|---|---|---|---|
| ၁။ | ဦးလှဖေ | မြန်မာ ၁၂/မရက(နိုင်) ၁၄၆၉၉၄ | မန်နေးဂျင်း ဒါရိုက်တာ အစုရှယ်ယာရှင် | ၁၆.၇ | အမှတ် (၁၀၂)၊ နဝဒေးရုပ်ရှင်ရုံဝင်း၊ ကမ္ဘာ့အေးဘုရားလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ |
| ၂။ | ဦးဆန်းမင်း | မြန်မာ ၁၂/မရက(နိုင်) ၁၄၅၉၃၇ | ဒါရိုက်တာ အစုရှယ်ယာရှင် | ၁၆.၇ | အမှတ် (၁၀၂)၊ နဝဒေးရုပ်ရှင်ရုံဝင်း၊ ကမ္ဘာ့အေးဘုရားလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ |
| ၃။ | ဦးလှအောင် | မြန်မာ ၁၂/မရက(နိုင်) ၁၄၆၉၉၅ | ဒါရိုက်တာ အစုရှယ်ယာရှင် | ၁၆.၇ | အမှတ် (၁၀၂)၊ နဝဒေးရုပ်ရှင်ရုံဝင်း၊ ကမ္ဘာ့အေးဘုရားလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ |
| ၄။ | ဒေါ်နန်းအောင်လှ | မြန်မာ ၁၁/လရန(နိုင်) ၁၁၆၄၀၉ | ဒါရိုက်တာ အစုရှယ်ယာရှင် | ၁၆.၇ | အမှတ် (၁၀၂)၊ နဝဒေးရုပ်ရှင်ရုံဝင်း၊ ကမ္ဘာ့အေးဘုရားလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ |
| ၅။ | ဒေါ်မြင့်မြင့်ကြည် | မြန်မာ ၁၂/လရက(နိုင်) ၁၂၂၇၇၀ | ဒါရိုက်တာ အစုရှယ်ယာရှင် | ၁၆.၇ | အမှတ် (၄၅)၊ ဦးမောင်မောင်စိုးလမ်း၊ (၅) ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း။ |
| ၆။ | ဦးလှရွှေ | မြန်မာ ၁၂/လမတ(နိုင်) ၀၂၀၄၉၄ | ဒါရိုက်တာ အစုရှယ်ယာရှင် | ၁၆.၆ | အမှတ် (၁၀၂)၊ နဝဒေးရုပ်ရှင်ရုံဝင်း၊ ကမ္ဘာ့အေးဘုရားလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ |

မှတ်ချက်။ ။ – အဆိုပြုလုပ်ငန်းအား ခွင့်ပြုမိန့်ရရှိပါက အစုရှယ်ယာဝင်များမှ အစုရှယ်ယာများ ထပ်မံထည့်ဝင်ကြမည်ဖြစ်ပါသည်။

– မြေတန်ဖိုးကျပ်သိန်း (၂၀၀)ကို မန်နေးဂျင်းဒါရိုက်တာနှင့် အစုရှယ်ယာရှင်ဖြစ်သူ ဦးလှဖေက အစုရှယ်ယာအဖြစ်ထည့်ဝင်မည်ဖြစ်ပါသည်။

သို့မှတ်
၂၃

နောက်ဆက်တွဲ (၂)
ဇယား (၁)

# Marine Acary Production Co., Ltd.

## List of Machinery and Equipment

| Sr No. | | Particulars | A/U | Qty. | Unit Price (Kyat) | Amount (Kyat.000) |
|---|---|---|---|---|---|---|
| 1 | | **Silver Dream Co., Ltd. မှ ဝယ်ယူထားပြီးသော Fish Meal Equipment များ:** | | | | |
| | 1 | Metal Cooler 15 HP | Set | 2 | | |
| | 2 | Serubber Deodorizer | Set | 1 | | |
| | 3 | Twin Hammer 40 HP/ 40HP | Set | 1 | | |
| | 4 | Bagging Unit | Unit | 1 | | |
| | 5 | Multi-Cyclone Unit | Set | 1 | | |
| | 6 | Feeding Unit | Unit | 1 | | |
| | 7 | Meal Mixture 20 HP | Set | 1 | | |
| | 8 | Oil Feeding Tanks | Unit | 1 | | |
| | 9 | Oil Pump 40 HP | Set | 1 | | |
| | 10 | Blower 40 HP/ 25 HP/ 15 HP/ 10HP | Set | 4 | | |
| | 11 | Control Panel | Unit | 1 | | |
| | 12 | Stack | Set | 2 | | |
| | 13 | Oil Pipes | Set | 1 | | |
| | 14 | Screw Conveyor | Set | 10 | | |
| | 15 | Motor 2 HP | Set | 6 | | |
| | 16 | Strainer 2 HP | Set | 1 | | |
| | | **Sub Total** | | | | **60,000** |
| 2 | | **Yantai Moon Co., Ltd. မှ ဝယ်ယူထားပြီးသော Ice Making Plant အတွက် စက်ပစ္စည်းများ:** | | | | |
| | | **(Ice Making Plant)** | | | | |
| | 1 | Compresser Without motor | Set | 1 | 10,700,000 | 10,700 |
| | 2 | Evaporative Coins | Set | 2 | 4,000,000 | 8,000 |
| | 3 | Ammonia Receiver | Set | 1 | 4,000,000 | 4,000 |
| | 4 | Liquid Seperator | Set | 1 | 2,600,000 | 2,600 |
| | 5 | Crane | Set | 1 | 850,000 | 850 |

သို့မှတ်

နောက်ဆက်တွဲ (၂)
ဇယား (၂)

# Marine Acary Productin Co., Ltd.

## List of Machinery and Equipment

| Sr No. | | Particulars | A/U | Qty. | Unit Price (Kyat) | Amount (Kyat 000) |
|---|---|---|---|---|---|---|
| | 6 | Agitator | Set | 2 | 500,000 | 1,000 |
| | 7 | Steel Pipe | Pcs | 366 | 16,000 | 5,856 |
| | 8 | Pipe for installation | - | - | - | 1,550 |
| | 9 | Vavle for the system | - | - | - | 3,100 |
| | 10 | EPS insulation Materials Block | Block | 18 | 75,000 | 1,350 |
| | 11 | Galvanized Steel | Sheet | 385 | 32,000 | 12,320 |
| | | **Sub Total** | | | | **51,326** |
| | | **(Ice Store)** | | | | |
| | 12 | Compressor Unit | Set | 1 | 4,300,000 | 4,300 |
| | 13 | Air Cooler | Set | 1 | 2,350,000 | 2,350 |
| | 14 | Insulation Material | Set | 1 | 2,550,000 | 2,550 |
| | 15 | Store Body | - | - | 16,175,000 | 16,175 |
| | | **Sub Total** | | | | **25,375** |
| 3 | | **Quality and Design Engineering & Technology Work မှဝယ်ယူခဲ့သော ပရိုဂျူဆာ ဓာတ်ငွေ့ထုတ်စက်** | | | | |
| | ၁ | အင်ဂျင် RE 10 370-450 HP | | | | |
| | ၂ | ပရိုဂျူဆာဓာတ်ငွေ့ထုတ်စက် Dual System 70%-80% gas, 20%-30% Fuel | | | | |
| | ၃ | ဇီဝလောင်စာ အမျိုးအစား: Rice Husk | | | | |
| | ၄ | ဓာတ်ပေါင်းဖို | | | | |
| | ၅ | ဆိုင်ကလုံး | | | | |
| | ၆ | ဓာတ်ငွေ့လျှော်ဖွတ်စနစ် | | | | |
| | ၇ | ဓာတ်ငွေ့သန့်စင်စနစ် | | | | |
| | ၈ | ရေပန့် | | | | |
| | ၉ | ရေပိုက်လိုင်း | | | | |
| | ၁၀ | ဓာတ်ငွေ့ပိုက်လိုင်း | | | | |
| | ၁၁ | ရေဘား၊ ဓာတ်ငွေ့ဘားများ | | | | |
| | ၁၂ | ရေကန်အထိုင် | | | | |
| | ၁၃ | လှေကား | | | | |
| | | **Sub Total** | | | | **13,500** |

နောက်ဆက်တွဲ (၂)
ဇယား (၃)

# Marine Acary Productin Co., Ltd.

## List of Machinery and Equipment

| Sr No. | | Particulars | A/U | Qty. | Unit Price (Kyat) | Amount (Kyat 000) |
|---|---|---|---|---|---|---|
| 4 | | **San Shwe Trading Co., Ltd. မှဝယ်ယူခဲ့သော Generating Set များ** | | | | |
| | ၁ | Caterpillar Generating Set 635 KVA | Set | 1 | 40,000,000 | 40,000 |
| | ၂ | Olympian Geneating Set 100 KVA | Set | 1 | 15,000,000 | 15,000 |
| | | **Sub Total** | | | | **55,000** |
| 5 | | **Infrastructure Equipment Ltd. မှဝယ်ယူပြီးသည့် Generating Set** | | | | |
| | ၁ | Caterpillar Generating Set 410 KVA | Set | 1 | 63,840,000 | 63,840 |
| | | **Sub Total** | | | | **63,840** |
| 6 | | **Waste Water Treament Plant** | | | | |
| | 1 | Waste Water Treatment Equipment | Set | 1 | 10,000,000 | 10,000 |
| | 2 | Waste Water Piping System | Set | 1 | 5,000,000 | 5,000 |
| | | **Sub Total** | | | | **15,000** |
| | | **Grand Total** | | | | 284,041 |

အထက်ဖော်ပြပါ စက်ပစ္စည်းများသည် အသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

Daw Nan Aung Lu
Director
Marine Acary Production Co., Ltd.

နောက်ဆက်တွဲ (၃)

# ပင်လယ်ဇေကရီ ထုတ်လုပ်မှု ကမ္ပဏီလီမိတက်

## စက်ရုံ အဆောက်အဦးတည်ဆောက်မှု

| အမှတ်စဉ် | အဆောက်အဦး | အရေအတွက် | အတိုင်းအရှည် | တန်ဖိုး (ကျပ်ထောင်ပေါင်း) |
|---|---|---|---|---|
| | | | | |
| ၁ | စက်ရုံပင်မအဆောက်အုံ (RC) Steel Column | ၁ | ၄၅ မီတာ x ၂၀ မီတာ x ၆ မီတာ | ၆၅,၀၀၀ |
| ၂ | ရေခဲစက် (RC) Related Work | ၁ | ၁၀၅ မီတာ x ၅၀ မီတာ | ၂၆,၀၀၀ |
| | စုစုပေါင်း | ၂ | | ၉၁,၀၀၀ |

မှတ်ချက်။ ။ ပင်မစက်ရုံအဆောက်အဦးတွင် ငါးအမှုန်ကြိတ်စက် တည်ဆောက်လျှက်ရှိပါသည်။ ရေခဲစက်ကိုလည်း တစ်ဆက်တည်း တည်ဆောက်ပါသည်။ အဆောက်အအုံအမျိုးအစားမှာ အဆောက်အဦးအမျိုးအစား အမျိုးအစားမှာ RC/ Steel Column အမျိုးအစားဖြစ်ပြီး၊ မီးဘေးလုံခြုံမှုအစီအမံများဖြည့်စွက်ဆောက်လုပ်ပေးထားပါသည်။ စက်ရုံအဆောက်အဦးကို Asia Metal Construction Co., Ltd. က တာဝန်ယူတည်ဆောက်မည်ဖြစ်ပြီး၊ Contract Agreement ကိုလည်း ပူးတွဲတင်ပြပါသည်။

- အလုပ်သမားများအတွက်-

  (၁) အဝတ်လဲခန်း (၂)ခန်း
  (၂) ထမင်းစားခန်း (၁)ခန်း
  (၃) သန့်စင်ခန်း (၁၀)ခန်း
  (၄) ကျန်းမာရေးဆေးခန်း
  ဖြည့်သွင်းတည်ဆောက်ထားပါသည်။

- လုံခြုံရေးအတွက် ဂိတ်ရုံများ တည်ဆောက်ထားပါသည်။

- မီးဘေးလုံခြုံရေးအတွက် မီးသတ်နိုင်ရန် ရေလှောင်ကန်တစ်ခု တည်ဆောက်ထားပါသည်။

နောက်ဆက်တွဲ ( ၄ )

# Marine Acary Production Co., Ltd.

ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | အရေ အတွက် | ဈေးနှုန်း (ကျပ်) | တန်ဖိုး (ကျပ်) |
|---|---|---|---|---|---|
| ၁။ | စားပွဲ | လုံး | ၁၀ | ၈၅,၀၀၀ | ၈၅၀,၀၀၀ |
| ၂။ | ကုလားထိုင် | လုံး | ၁၅ | ၁၅,၀၀၀ | ၂၂၅,၀၀၀ |
| ၃။ | ဘီရို | လုံး | ၁၀ | ၄၀,၀၀၀ | ၄၀၀,၀၀၀ |
| ၄။ | ပစ္စည်းတင်ရန်စင် | ခု | ၁၅ | ၂၀,၀၀၀ | ၃၀၀,၀၀၀ |
| ၅။ | ထမင်းစားစားပွဲ | စုံ | ၁၀ | ၉၉,၀၀၀ | ၉၉၀,၀၀၀ |
| ၆။ | လေအေးပေးစက် | စုံ | ၁၀ | ၄၀၀,၀၀၀ | ၄,၀၀၀,၀၀၀ |
| ၇။ | လုပ်ငန်းသုံးအကာအကွယ်ပစ္စည်းများ | စုံ | ၁၀ | ၂၈,၅၀၀ | ၂၈၅,၀၀၀ |
| ၈။ | မီးသတ်ပစ္စည်းများ | စုံ | ၂၀ | ၃၅,၀၀၀ | ၇၀၀,၀၀၀ |
| ၉။ | ကွန်ပြူတာ | စုံ | ၂ | ၄၅၀,၀၀၀ | ၉၀၀,၀၀၀ |
| ၁၀။ | မိတ္တူကူးစက် | လုံး | ၁ | ၁,၂၀၀,၀၀၀ | ၁,၂၀၀,၀၀၀ |
| ၁၁။ | အလုပ်သမားဝတ်စုံများ | အစုံ | ၁ | ၁၅၀,၀၀၀ | ၁၅၀,၀၀၀ |
| | စုစုပေါင်း | | | | ၁၀,၀၀၀,၀၀၀ |

မှတ်ချက်။ ။ အထက်ပါ ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများကို စက်ရုံစတင်လည်ပတ်သည့် အချိန်မှသာ ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။

